ကုမ္ပဏီအမည် - Lotus Wood Industry Limited

လုပ်ငန်း - သစ်ပါးလွှာ၊ ကျွန်းသစ်ပါးလွှာ၊ အထပ်သားနှင့် သစ်အချောထည်များ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၁၇-၃-၂၀၁၅ | | |
| ၂ | အဆိုပြုချက်အား ကုမ္ပဏီဌာနခွဲသို့ စိစစ်ရန် ပေးပို့ခြင်း | ၂၄-၃-၂၀၁၅ | | |
| ၃ | သဘောထားမှတ်ချက်တောင်းခံခြင်း | | | |
| | (က) စီမံကိန်း စိစစ်ရေးနှင့် တိုးတက်မှု အစီရင်ခံရေးဦးစီးဌာန | ၂၄-၃-၂၀၁၅ | ၂၆-၃-၂၀၁၅ | |
| | (ခ) မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ (ပထမအကြိမ်) | ၂၆-၃-၂၀၁၅ | | |
| | မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ (ဒုတိယ အကြိမ်) | ၈-၄-၂၀၁၅ | ၂၃-၄-၂၀၁၅ | |
| | (ဂ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန (ပထမအကြိမ်) | ၂၆-၃-၂၀၁၅ | ၇-၀-၂၀၁၅ | |
| | (ဃ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန (ဒုတိယအကြိမ်) | ၈-၄-၂၀၁၅ | ၂၃-၄-၂၀၁၅ | |
| | (င) စက်မှုဝန်ကြီးဌာန | ၂၆-၃-၂၀၁၅ | ၉-၄-၂၀၁၅ | |
| ၄ | PAT တင်ပြခြင်း | ၂၃-၃-၂၀၁၅ ၁၂/၂၀၁၅ | | |
| ၅ | PAT လက်ခံကြောင်းပြန်ကြားခြင်း | ၂၃-၃-၂၀၁၅ | | |
| ၆ | PAT ဆုံးဖြတ်ချက်အရ လိုအပ်ချက်များ အကြောင်းကြားခြင်း | ၃၀-၃-၂၀၁၅ | | |
| ၇ | ကုမ္ပဏီမှ လိုအပ်ချက်များ ပြင်ဆင် တင်ပြခြင်း | ၃၀-၄-၂၀၁၅ | | |
| ၈ | မြေအသုံးပြုခွင့်တင်ပြခြင်း | | | |
| | (က) ကော်မရှင်အစည်းအဝေး (၆/၂၀၁၅) သို့ တင်ပြခြင်း | ၃-၄-၂၀၁၅ | | |

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| | (ခ) စီးပွားရေးရာကော်မတီ အစည်းအဝေး (၉/၂၀၁၅) သို့ တင်ပြခြင်း | - | | |
| | (ဂ) ပြည်ထောင်စုအစိုးရအဖွဲ့ သို့ တင်ပြခြင်း | | | ဆောင်ရွက်ဆဲ |
| ၉ | ကုမ္ပဏီမှ အဆိုပြုချက် အစုံ(၁၀) ပေးပို့ခြင်း | ၁၃-၅-၂၀၁၅ | | |
| ၁၀ | ကော်မရှင်အစည်းအဝေးသို့ တင်ပြခြင်း | ၁၅-၅-၂၀၁၅ | | |
| | စုစုပေါင်းကြာမြင့်ချိန် | ၅၈ ရက် | | |

| | |
|---|---|
| ကုမ္ပဏီအမည် | Lotus Wood Industry Limited |
| အဖွဲ့အစည်းပုံသဏ္ဍာန် | ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | သစ်ပါးလွှာ၊ကျွန်းသစ်ပါးလွှာ၊အထပ်သားနှင့် သစ်အချော ထည်များ ထုတ်လုပ်ခြင်း နှင့် ရောင်းချခြင်းလုပ်ငန်း |
| တည်နေရာ | မန္တလေးတိုင်းဒေသကြီး၊ မြင်းခြံခရိုင်၊ ငါန်းဇွန်မြို့နယ်၊ အကွက်အမှတ်-(၁+၂+၃+၄)၊ မြေကွက်အမှတ်(LG-8) ၊ |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | အမေရိကန်ဒေါ်လာ ၇.၅၃ သန်း |
| ရောင်းချမည့်စနစ် | ၉၀% ပြည်ပပို့၊ ၁၀% ပြည်တွင်းရောင်း |
| လုပ်ငန်းသက်တမ်း | ၅၀ နှစ် |
| အရင်းကြေကာလ | ၅ နှစ် ၄လ |
| IRR | ၁၅.၉၂% |

အထက်ပါ လုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit(ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံဝန်ထမ်းလစာ | ၂.၁၆၀ | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၁.၁၆၅ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၂၈၄.၇၁၅ | |
| ၄ | ကုန်သွယ်လုပ်ငန်းခွန် | | ၁၁၁၉.၀ |
| ၅ | ဝင်ငွေခွန် | ၁၅၄၄.၇ | ၂၉၁၄.၅ |
| ၆ | ရေ၊ လျှပ်စစ်မီးသုံးစွဲခ | | ၄၆၂.၆၅ |
| ၇ | လုပ်ခလစာအပေါ် ဝင်ငွေခွန် | | တစ်နှစ်ဝင်ငွေကျပ်သိန်းနှစ်ဆယ် ထက်ကျော်ပါ အခွန်ပေးရမည့် ဝန်ထမ်း( ၈၅ )ဦး |
| ၈ | CSR ( ၂ %) | | ၁၈၄.၃ |
| ၉ | မြေငှားရမ်းခရငွေ | | ၁၂၇၃.၀၀၀ |
| ၁၀ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ၂၀၀ ဦး ပြည်တွင်း လုပ်သား(၂၀၀)ဦးအလုပ်အကိုင် ရရှိမည်ဖြစ်၍ ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကို အထောက် အကူပြုစေပါသည်။ |
| | | ၁၈၃၀.၅၇၅ | ၅၉၉၄.၇၁၅ |
| | Cost & Benefit | ၁:၃ | |

အကြောင်းအရာ။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Lotus Wood Industry Limited မှ သစ်ပါးလွှာ၊ ကျွန်းသစ်ပါးလွှာ၊ အထပ်သားနှင့် သစ်အချောထည်များ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - Lotus Wood Industry Limited<br>- Mr.Ramesh Kumar Sawarthia |
| | အဖွဲ့အစည်းပုံသဏ္ဌာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>- မြန်မာနိုင်ငံသား ၁၀%<br>- ဦးဆန်ဂျေးကူမား(ရ်) ၅%၊<br>- ဦးအာစီလစ်(ဂျ်)(ခ)ဦးမီကီး ၅%<br>- နိုင်ငံခြားသား ၉၀%<br>- Mr. Ramesh Kumar Sawarthia ၈၀% (တရုတ်)<br>- Mr. Sankat Mochan Shrivastava ၁၀% (အိန္ဒိယ) |
| | လုပ်ငန်းအမျိုးအစား | - သစ်ပါးလွှာ၊ ကျွန်းသစ်ပါးလွှာ၊ အထပ်သားနှင့် သစ်အချောထည်များ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - မန္တလေးတိုင်းဒေသကြီး၊ မြင်းခြံခရိုင်၊ ငါန်းဇွန်မြို့နယ်၊ အကွက်အမှတ်-(၁+၂+၃+၄)၊ မြေကွက်အမှတ်-(LG-8) |
| | မြေပိုင်ရှင်<br>မြေအကျယ်အဝန်း | - ဦးဆန်ဂျေးကူမား(ရ်) နှင့် ဦးအာစီလစ်(ဂျ်)(ခ)ဦးမီကီး စုစုပေါင်း ၁၃.၂၂ ဧက (၅၃,၅၁၄.၅၁ စတုရန်းမီတာ) |
| ၃။ | နှစ်စဉ်မြေငှားရမ်းခ | - တစ်နှစ်လျှင် US$ ၁၃၃,၇၈၆.၂၇ နှုန်း (တစ်နှစ်တစ်စတုရန်းမီတာလျှင် US$ ၂.၅ နှုန်း) |
| ၄။ | လုပ်ငန်းသက်တမ်း<br>တည်ဆောက်ရေးကာလ | - ကနဦး ၅၀ နှစ်(သက်တမ်းတိုး ၁၀နှစ် ၂ကြိမ်)<br>- ၂ နှစ် |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု<br>ထည့်ဝင်သည့်အမျိုးအစား | - US$ ၇.၅၃ သန်း |

(အမေရိကန်ဒေါ်လာ - သန်းပေါင်း)

| | ပြည်ပ | ပြည်တွင်း | စုစုပေါင်း |
|---|---|---|---|
| ငွေပမာဏ | ၀.၁၅၀ | ၀.၇၅၃ | ၀.၉၀၃ |
| စက်ပစ္စည်းကိရိယာ | ၂.၉၉၇ | | ၂.၉၉၇ |
| ကုန်ကြမ်းပစ္စည်း | ၂.၂၇၆ | | ၂.၂၇၆ |
| လျှပ်စစ်ပစ္စည်း | ၀.၂၅၄ | | ၀.၂၅၄ |
| စက်ရုံအဆောက်အအုံ | ၀.၆၈၅ | | ၀.၆၈၅ |
| အခြား(မော်တော်ယာဉ်) | ၀.၄၁၅ | | ၀.၄၁၅ |
| **စုစုပေါင်း** | **၆.၇၇၇** | **၀.၇၅၃** | **၇.၅၃၀** |

| | | |
|---|---|---|
| ၆။ | ဝန်ထမ်းအင်အား<br>ပြည်တွင်း | - ၂၀၅ ဦး<br>- ၂၀၀ ဦး ( ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာ ကျပ် ၁၀၀,၀၀၀ နှင့်အမြင့်ဆုံးလစာ ကျပ် ၅၀၀,၀၀၀) |

| | | |
|---|---|---|
| | ပြည်ပ | - ၅ ဦး(ပြည်ပဝန်ထမ်းတစ်ဦး၏ လစာ US$ ၁,၀၀၀.၀၀) |
| ၇။ | ရောင်းချမည့်စနစ် | - ၉၀ % ပြည်ပပို့၊ ၁၀% ပြည်တွင်းရောင်း။ |
| ၈။ | ရောင်းချမည့်ပစ္စည်း (ပုံမှန်နှစ်) ပြည်ပပို့ (၉၀%) | စဉ် / အမျိုးအမည် / အရေအတွက် (ကုဗမီတာ) / ရောင်းချမည့် ဈေးနှုန်း (US$/ ကုဗမီတာ) |
| | | (က) Face Veneer / ၁၈,၄၅၂ / ၆၀၀ |
| | | (ခ) Core Veneer / ၁,၉၄၅ / ၄၂၀ |
| | | (ဂ) Teak Veneer / ၃၅၀ / ၄,၂၀၀ |
| | | (ဃ) Plywood |
| | | (၁) 3.20 MM / ၂,၀၇၃ / ၉၀၀ |
| | | (၂) 6 MM / ၁,၁၉၆ / ၈၂၀ |
| | | (၃) 12 MM / ၁,၁၉၆ / ၈၀၀ |
| | | (၄) 19 MM / ၆,၆၉၇ / ၈၂၀ |
| | | (င) Sawn Timber / ၄,၆၇၂ / ၇၆၀ |
| | ပြည်တွင်းရောင်း (၁၀%) | စဉ် / အမျိုးအမည် / အရေအတွက် (ကုဗမီတာ) / ရောင်းချမည့် ဈေးနှုန်း (ကျပ်/ကုဗမီတာ) |
| | | (က) Face Veneer / ၂,၀၅၀ / ၅၄၆,၂၅၀ |
| | | (ခ) Core Veneer / ၂၁၆ / ၃၂၇,၇၅၀ |
| | | (ဂ) Teak Veneer / ၃၉ / ၃,၆၀၅,၂၅၀ |
| | | (ဃ) Plywood |
| | | (၁) 3.20 MM / ၂၃၀ / ၇၃၁,၅၀၀ |
| | | (၂) 6 MM / ၁၃၃ / ၇၆၂,၈၅၀ |
| | | (၃) 12 MM / ၁၃၃ / ၆၀၆,၁၀၀ |
| | | (၄) 19 MM / ၇၄၄ / ၆၈၉,၇၀၀ |
| | | (င) Sawn Timber / ၅၁၉ / ၇၅၀,၀၀၀ |
| ၉။ | ကုမ္ပဏီ၏ ဝင်ငွေ (ပုံမှန်နှစ်) | - US$ ၂၈.၉၂ သန်း |
| | အသုံးစရိတ် | - US$ ၂၈.၁၂ သန်း |
| | ကုမ္ပဏီ၏အသားတင်အမြတ်(ပုံမှန်နှစ်) | - US$ ၀.၈၀ သန်း |
| ၁၀။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ် | |
| | ဝင်ငွေခွန် | - US$ ၀.၃၁ သန်း |
| | ကုန်သွယ်လုပ်ငန်းခွန် | - US$ ၀.၁၄ သန်း |
| | အရင်းကြေကာလ | - ၅ နှစ် ၄ လ |
| | အရင်းအနှီးအပေါ်အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | - ၁၅.၉၂ % |

| | | |
|---|---|---|
| ၁၁။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု (နှစ်စဉ်) | - ၆၃၀,၀၀၀ Unit |
| ၁၂။ | CSR | - အမြတ်ငွေ၏ ၂% အား CSR ရန်ပုံငွေအဖြစ် ထားရှိသုံးစွဲသွားမည်ဖြစ်ပါသည်။ |
| ၁၃။ | မီးဘေးအန္တရာယ် ကြိုတင် ကာကွယ်မှု အစီအစဉ် | - သံကူ၊ ကွန်ကရစ်(RC) ဖြင့် ဂါလံ ၁၀၀,၀၀၀ ဆန့် ရေလှောင် ကန်ထားရှိခြင်း၊ မီးသတ်ဘူး၊ ရေပုံး၊ မီးကပ်၊ မီးချိတ်၊ သဲအိတ်များထားရှိခြင်း၊ ဝန်ထမ်းများအား မီးဘေးအန္တရာယ်ကာကွယ်ရန် စည်းကမ်းချက်များ ထားရှိ၍ တိကျစွာလိုက်နာဆောင်ရွက်စေခြင်း၊ အရေးပေါ် မီးသတ်နည်းပညာများ လေ့ကျင့်သင်ကြားပေးခြင်း၊ ဆေးလိပ်သောက်ခြင်းအား တားမြစ်ထားခြင်းတို့ကို ဆောင်ရွက်မည်ဖြစ်ကြောင်းတင်ပြထားပါသည်။ |
| ၁၄။ | အခြားတင်ပြချက် | - Lotus Wood Industry Limited ၏ MOA, AOA မူကြမ်း တင်ပြထားပါသည်။<br>- ဒါရိုက်တာ အဖွဲ့ဝင်များ၏ မှတ်ပုံတင်မိတ္တူနှင့် နိုင်ငံကူး လက်မှတ် မိတ္တူများ တင်ပြထားပါသည်။<br>- မြေပိုင်ရှင် ဦးဆန်ဂျေးကူမား(ရ်) နှင့် ဦးအာစီလစ်(ဂ်)(ခ) ဦးမီကီးနှင့် မြေငှားသူ Lotus Wood Industry Limited တို့ချုပ်ဆိုထားမည့် မြေငှားစာချုပ် (မူကြမ်း) တင်ပြထား ပါသည်။<br>- မန္တလေးမြို့သာ စက်မှုဖွံ့ဖြိုးတိုးတက်ရေး အများပိုင် ကုမ္ပဏီ လီမိတက်နှင့် ဦးဆန်ဂျေးကူမား(ရ်)၊ ဦးအာစီလစ်(ဂ်)(ခ) ဦးမီကီတို့ချုပ်ဆိုထားသော မြေကွက်အရောင်းအဝယ် စာချုပ်များကို တင်ပြထားပါသည်။<br>- ဦးဆန်ဂျေးကူမား(ရ်)၊ ဦးအာစီလစ်(ဂ်)(ခ) ဦးမီကီးနှင့် Mr. Ramesh Kumar Sawarthia ၊ Mr. Sankat Mochan Shrivastava တို့ ချုပ်ဆိုမည့် ဖက်စပ်စာချုပ် (မူကြမ်း) တင်ပြထားပါသည်။<br>- ဟောင်ကောင်ရှိ Bank of India မှ (၃၀-၁၁-၂၀၁၄) ရက်နေ့တွင် Mr. Ramesh Kumar Sawarthia သည် A/C No. 852210101000150 ဖြင့် HKD ၆၈၈,၉၈၀.၅၂ (US$ ၈၉၄၇၇.၉၈) ရှိကြောင်း ငွေကြေးအထောက်အထား တင်ပြထား ပါသည်။<br>- အိန္ဒိယနိုင်ငံရှိ United Banch of India မှ (၁၀-၁-၂၀၁၅) ရက်နေ့တွင် Mr. Sankat Mochan Shrivastava သည် ရူပီး ၂,၄၆၅,၃၃၅.၄၀ (US$ ၃၈၀၈၉.၃၃) ရှိကြောင်း ငွေကြေး အထောက်အထား တင်ပြထားပါသည်။ |

| | | |
|---|---|---|
| ၁၅။ | စိစစ်တင်ပြချက် | - မြန်မာနိုင်ငံရှိ ဧရာဝတီဘဏ် မှ (၃၀-၉-၂၀၁၄) ရက်စွဲဖြင့် ဦးဆန်ဂျေးကူမား(ရ်)သည် ကျပ် ၂,၆၈၃,၉၈၂.၇၇ ရှိကြောင်း ငွေကြေး အထောက်အထား တင်ပြထားပါသည်။<br>- မြန်မာနိုင်ငံရှိ ဧရာဝတီဘဏ် မှ (၃၁-၁၀-၂၀၁၄) ရက်စွဲဖြင့် ဦးအာစီလစ်(ဂျ်) (ခ) ဦးမီကီးသည် ကျပ် ၉၄၅,၂၀၁.၇၇ ရှိကြောင်း ငွေကြေး အထောက်အထား တင်ပြထားပါသည်။<br>- ကုန်ကြမ်း ရယူသုံးစွဲမည့် အစီအစဉ်၊ မီးဘေးကြိုတင်ကာကွယ်ရေး စီမံချက်၊ လုပ်ငန်းခွင် သာယာရေးနှင့် ဝန်ထမ်း သက်သာချောင်ချိရေး စီမံချက်၊ ဝန်ထမ်းများ၏ ကျန်းမာရေးအတွက် စီမံချက်၊ ပတ်ဝန်းကျင် ထိန်းသိမ်းစောင့်ရှောက်မည် ဖြစ်ကြောင်း ကတိဝန်ခံချက်၊ အလုပ်သမားများ လစာအပေါ် ဝင်ငွေခွန် ပေးဆောင်မည် ဖြစ်ကြောင်း ဝန်ခံကတိပြုစာ၊ အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များ လျှောက်ထားချက်နှင့် CSR အတွက် အသားတင်အမြတ်မှ ၂ % ရာထားသုံးစွဲမည်ဖြစ်ကြောင်း Project တို့ကို တင်ပြထားပါသည်၊ ကုမ္ပဏီပိုင် သစ်တောစိုက်ခင်းများ ထူထောင်စိုက်ပျိုးမည်ဖြစ်ကြောင်း တင်ပြထားပါသည်။<br>- မြေဂရန် ရရှိရေးအတွက် တိုင်းဒေသကြီးအစိုးရဌာနသို့ ဆက်လက် တင်ပြလျှောက်ထားပေးမည် ဖြစ်ကြောင်း မန္တလေးမြို့သာစက်မှု ဖွံ့ဖြိုးတိုးတက်ရေး အများပိုင်ကုမ္ပဏီလီမိတက်မှ ထောက်ခံတင်ပြထားပါသည်။<br>- မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့၊ လျှပ်စစ်နှင့် စက်မှုလက်မှုဝန်ကြီးဌာနမှ စက်ရုံ၊ အလုပ်ရုံများ မြေနေရာချထားရေးအတွက် သဘောတူခွင့်ပြုထားခြင်း မှန်ကန်ပါကြောင်း တင်ပြထားပါသည်။<br>- နိုင်ငံခြားမှ တင်သွင်းလာသော မော်တော်ကားများအား ကျသင့်သော အခွန်အကောက်များပေးဆောင်၍ တင်သွင်းမည်ဟု ဖော်ပြထားပါသည်။ |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက -၂/န - ၁၂၁/၂၀၁၅( ၃၅၈ )

ရက်စွဲ ၊၂၀၁၅ ခုနှစ် မေလ ၁၃ ရက်

## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့
## တင်ပြသည့်အမှာစာ

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Lotus Wood Industry Limited မှ သစ်ပါးလွှာ၊ ကျွန်းသစ်ပါးလွှာ၊ အထပ်သားနှင့် သစ်အချောထည်များ ထုတ်လုပ်ခြင်းနှင့်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စ**

၁။ တရုတ်နိုင်ငံသား Mr. Ramesh Kumar Sawarthia မှ ၈၀%၊ အိန္ဒိယနိုင်ငံသား Mr. Sankat Mochan Shrivastava မှ ၁၀%နှင့် မြန်မာနိုင်ငံသား ဦးဆန်ဂျေးကူမား(ရ်)မှ ၅%၊ မြန်မာနိုင်ငံသား ဦးအာစီလစ်(ဂျ်)(ခ)ဦးမီကီးမှ ၅% အစုရှယ်ယာများ ထည့်ဝင်၍ မြန်မာနိုင်ငံ တွင် Lotus Wood Industry Limited တည်ထောင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မန္တလေးတိုင်းဒေသကြီး၊ မြင်းခြံခရိုင်၊ ငါန်းဇွန်မြို့နယ်၊ အကွက်အမှတ်-(၁+၂+၃+၄)၊ မြေကွက်အမှတ်-(LG-8)ရှိ စုစုပေါင်းမြေအကျယ်အဝန်း ၁၃.၂၂ဧက (၅၃,၅၁၄.၅၁ စတုရန်းမီတာ)ကို ငှားရမ်းကာ သစ်ပါးလွှာ၊ ကျွန်းသစ်ပါးလွှာ၊ အထပ်သားနှင့် သစ်အချောထည်များ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြု တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မန္တလေးမြို့သာစက်မှုဇုံဖွံ့ဖြိုးတိုးတက်ရေး အများပိုင်ကုမ္ပဏီ လီမိတက်နှင့် ဦးဆန်ဂျေးကူမား(ရ်)၊ ဦးအာစီလစ်(ဂျ်)(ခ) ဦးမီကီတို့ချုပ်ဆိုထားသော မြေကွက်အရောင်းအဝယ်စာချုပ်များ၊ ဦးဆန်ဂျေးကူမား(ရ်)၊ ဦးအာစီလစ်(ဂျ်)(ခ) ဦးမီကီနှင့် Lotus Wood Industry Limited တို့ ချုပ်ဆိုမည့် မြေငှားစာချုပ် (မူကြမ်း)၊ ဦးဆန်ဂျေးကူမား(ရ်)၊ ဦးအာစီလစ်(ဂျ်)(ခ) ဦးမီကီ၊ Mr. Ramesh Kumar Sawarthia နှင့် Mr. Sankat Mochan Shrivastava ချုပ်ဆိုမည့် ဖက်စပ်သဘောတူစာချုပ် (မူကြမ်း)တို့ကို တင်ပြထားပါသည်။

၃။ မြေအကျယ်အဝန်းမှာ ၁၃.၂၂ ဧက (၅၃,၅၁၄.၅၁ စတုရန်းမီတာ) ဖြစ်ပြီး မြေငှားရမ်းခမှာ တစ်နှစ်လျှင် US$ ၁၃၃,၇၈၆.၂၇ နှုန်း (တစ်နှစ် တစ်စတုရန်းမီတာလျှင် US$ ၂.၅ နှုန်း) တင်ပြထားပါသည်။

၄။ လုပ်ငန်းစီမံကိန်း ကာလမှာ ကနဦး ၅၀ နှစ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၂ နှစ် ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်း ရင်းနှီးမြှုပ်နှံမှုမှာ အမေရိကန်ဒေါ်လာ ၇.၅၃ သန်း ဖြစ်ပြီး အောက်ပါအတိုင်း ထည့်ဝင်ထားပါသည်-

| | | ပြည်ပ (US$ သန်း) | ပြည်တွင်း (US$သန်း) | စုစုပေါင်း (US$ သန်း) |
|---|---|---|---|---|
| (က) | ငွေပမာဏ | ၀.၁၅၀ | ၀.၇၅၃ | ၀.၉၀၃ |
| (ခ) | စက်ပစ္စည်းကိရိယာ | ၂.၉၉၇ | | ၂.၉၉၇ |
| (ဂ) | ကုန်ကြမ်းပစ္စည်း | ၂.၂၇၆ | | ၂.၂၇၆ |
| (ဃ) | လျှပ်စစ်ပစ္စည်း | ၀.၂၅၄ | | ၀.၂၅၄ |
| (င) | စက်ရုံအဆောက်အအုံ | ၀.၆၈၅ | | ၀.၆၈၅ |
| (စ) | အခြား(မော်တော်ယာဉ်) | ၀.၄၁၅ | | ၀.၄၁၅ |
| | စုစုပေါင်း | ၆.၇၇၇ | ၀.၇၅၃ | ၇.၅၃၀ |

၆။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်းဦးရေ (၂၀၀) ဦးနှင့် ပြည်ပမှ ကျွမ်းကျင်ဝန်ထမ်းဦးရေ (၅) ဦး စုစုပေါင်း (၂၀၅) ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်တွင်းဝန်ထမ်း၏ အနိမ့်ဆုံး လစာမှာ ကျပ် ၁၀၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံး လစာမှာ ကျပ် ၅၀၀,၀၀၀ ဖြစ်ကြောင်းနှင့် ပြည်ပဝန်ထမ်း တစ်ဦး၏လစာမှာ အမေရိကန် ဒေါ်လာ ၁,၀၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိလာသည့် ပစ္စည်းများအား ပြည်ပသို့ ၉၀% နှင့် ပြည်တွင်းသို့ ၁၀ % တင်ပို့ ရောင်းချမည် ဖြစ်ပါသည်။ နှစ်စဉ်ပုံမှန်နှစ် ထုတ်လုပ်မှုနှင့် ရောင်းချမည့်ဈေးနှုန်းမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အမျိုးအမည် ပြည်ပသို့ (၉၀%) | အရေအတွက် (ကုဗမီတာ) | ရောင်းချမည့်ဈေးနှုန်း (US$/ကုဗမီတာ) |
|---|---|---|---|
| (က) | Face Veneer | ၁၈,၄၅၂ | ၆၀၀ |
| (ခ) | Core Veneer | ၁,၉၄၅ | ၄၂၀ |
| (ဂ) | Teak Veneer | ၃၅၀ | ၄,၂၀၀ |
| (ဃ) | Plywood | | |
| | (၁) 3.20 MM | ၂,၀၇၃ | ၉၀၀ |
| | (၂) 6 MM | ၁,၁၉၆ | ၈၂၀ |
| | (၃) 12 MM | ၁,၁၉၆ | ၈၀၀ |
| | (၄) 19 MM | ၆,၆၉၇ | ၈၂၀ |
| (င) | Sawn Timber | ၄,၆၇၂ | ၇၆၀ |

| စဉ် | အမျိုးအမည်<br>ပြည်တွင်းရောင်း (၁၀%) | အရေအတွက်<br>(ကုဗမီတာ) | ရောင်းချမည့်ဈေးနှုန်း<br>(ကျပ်/ကုဗမီတာ) |
|---|---|---|---|
| (က) | Face Veneer | ၂,၀၅၀ | ၅၄၆,၂၅၀ |
| (ခ) | Core Veneer | ၂၁၆ | ၃၂၇,၇၅၀ |
| (ဂ) | Teak Veneer | ၃၉ | ၃,၆၀၅,၂၅၀ |
| (ဃ) | Plywood | | |
| | (၁) 3.20 MM | ၂၃၀ | ၇၃၁,၅၀၀ |
| | (၂) 6 MM | ၁၃၃ | ၇၆၂,၈၅၀ |
| | (၃) 12 MM | ၁၃၃ | ၆၀၆,၁၀၀ |
| | (၄) 19 MM | ၇၄၄ | ၆၈၉,၇၀၀ |
| (င) | Sawn Timber | ၅၁၉ | ၇၅၀,၀၀၀ |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်တွင် ကုမ္ပဏီမှ ရရှိမည့် အကျိုးအမြတ်မှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

**(US$ သန်း)**

| | | |
|---|---|---|
| (က) | ဝင်ငွေ | ၂၈.၉၂ |
| (ခ) | အသုံးစရိတ် | ၂၈.၁၂ |
| (ဂ) | အသားတင်အမြတ် | ၀.၈၀ |

၉။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ဆဋ္ဌမမြောက်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် အမေရိကန်ဒေါ်လာ ၀.၃၁ သန်း ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ ၅ နှစ်နှင့် ၄လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ ၁၅.၉၂ % ဖြစ်ပါသည်။

၁၀။ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားထားပါသည်-

(က) **မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့မှ** ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်ခြင်းမရှိပါကြောင်း၊ မြို့နယ်ဒေသအလုပ်အကိုင်အခွင့်အလမ်းများနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေပါကြောင်း၊ ဖော်ပြပါမြေနေရာအား စက်ရုံအတွက်

လုပ်ငန်းဆောင်ရွက်သုံးစွဲခြင်းအပေါ် ဒေသခံများကလူမှုရေး၊ စီးပွားရေးတို့ကို အကျိုးအမြတ်ပေးနိုင်ခြင်း၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ ထိခိုက်နိုင်မှု မရှိပါကြောင်းနှင့် အဆိုပါရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်းသဘောထားပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-က**

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန** မှ လုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင် နှင့် လူမှုရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်းစီမံကိန်းများ ရေးဆွဲချမှတ်ခြင်း၊ လုပ်ငန်းလည်ပတ်ခြင်းနှင့် ထုတ်လုပ်ခြင်း အဆင့်ဆင့်တို့ အတွက် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့်လုပ်ငန်းစနစ်များ၊ စက်ပစ္စည်းများကို အသုံးပြုခြင်းနှင့် အဆိုပြုလွှာတွင် လူမှုရေးဆိုင်ရာ တာဝန်ခံမှု(CSR)အတွက် အသားတင်အမြတ်ငွေမှ ၂% ထည့်ဝင်ရန် အပါအဝင်ကတိကဝတ်များ၊ လုပ်ငန်းစီမံချက်များအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊ သစ်ပါးလွှာရာမှ ထွက်ရှိလာမည့် အမှုန်အမွှားများအတွက် အမှုန်အမွှား ထိန်းချုပ်စနစ် ထည့်သွင်းဆောင်ရွက်ရန်နှင့် လုပ်သားများ လုပ်ငန်းခွင်လုံခြုံစိတ်ချမှု ရှိစေရေးအတွက် လုပ်ငန်းခွင် လုံခြုံရေးပစ္စည်းများ တပ်ဆင်အသုံးပြုရန်၊ လုပ်ငန်းဆောင်ရွက်ရာမှ ထွက်ရှိလာမည့် ဆူညံသံအတွက် ဆူညံသံထိန်းချုပ်နည်းစနစ်များ၊ အစီအမံများ ရေးဆွဲဆောင်ရွက်ရန်၊ လုပ်ငန်းခွင်နှင့် ဝန်ထမ်းအိမ်ယာများမှ ထွက်ရှိလာမည့် စွန့်ပစ်ရေနှင့် စွန့်ပစ်ပစ္စည်း များကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းမှု မရှိစေရေးအတွက် ကောင်းမွန်သောစွန့်ပစ်အရည် သန့်စင်စနစ်ထားရှိရန်နှင့် စွန့်ပစ်အရည်/ပစ္စည်း စီမံခန့်ခွဲမှုအစီအမံများ၊ စီမံချက်များ ရေးဆွဲဆောင်ရွက်ရန်၊ ကနဦး ပတ်ဝန်းကျင် ဆန်းစစ်ခြင်း (IEE) ဆောင်ရွက်ပြီး အစီရင်ခံစာတင်ပြရန်၊ အထက်ပါ ဆန်းစစ်မှုရလဒ်များကိုအခြေခံ၍ လုပ်ငန်းအစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးရေး ဆောင်ရွက်မည့်လုပ်ငန်းများ အတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ် (EMP) ရေးဆွဲတင်ပြရန်နှင့် အစီရင်ခံစာအရအကောင်အထည်ဖော်ဆောင်ရွက်ရန်၊ ရေရှည်တွင် ကုန်ကြမ်းရရှိရေးအတွက် ကုမ္ပဏီပိုင်သစ်တောစိုက်ခင်းများထူထောင်ရန်၊ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော်ဆောင်ရွက်ရန် သဘောထားမှတ်ချက်ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-ခ**

(ဂ) **စက်မှုဝန်ကြီးဌာနမှ** လျှပ်စစ်သွယ်တန်းအသုံးပြုမှုများကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေး ဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါကြောင်း သဘောထား မှတ်ချက် ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-ဂ**

၁၁။ ငွေရေးကြေးရေးအထောက်အထားအဖြစ် ဟောင်ကောင်ရှိ Bank of India မှ (၃၀-၁၁-၂၀၁၄) ရက်နေ့တွင် Mr. Ramesh Kumar Sawarthia သည် A/C No. 852210101000150 ဖြင့် HKD ၆၈၈,၉၈၀.၅၂ (US$ ၈၉,၄၇၇.၉၈) ရှိကြောင်း၊ အိန္ဒိယနိုင်ငံရှိ United Bank of India မှ (၁၀-၁-၂၀၁၅) ရက်နေ့တွင် Mr. Sankat Mochan Shrivastava သည် ရူပီး ၂,၄၄၅,၃၃၅.၄၀ (US$ ၃၈၀၈၉.၃၃) ရှိကြောင်း၊ မြန်မာနိုင်ငံရှိ ရေဝတီဘဏ်မှ (၃၀-၉-၂၀၁၄)ရက်စွဲဖြင့် ဦးဆန်ရျေးကူမား(ရ်)သည် ကျပ်၂,၆၈၃,၉၈၂.၇၇ ရှိကြောင်းနှင့် မြန်မာနိုင်ငံရှိ ရေဝတီဘဏ်မှ (၃၁-၁၀-၂၀၁၄) ရက်စွဲဖြင့် ဦးအာစီလစ်(ဂ်) (ခ) ဦးမီကီးသည် ကျပ် ၉၄၅,၂၀၁.၇၇ ရှိကြောင်း တင်ပြထားပါသည်။

၁၂။ Lotus Wood Industry Limited မှ ကုမ္ပဏီပိုင်သစ်တောစိုက်ခင်းများထူထောင် စိုက်ပျိုးမည် ဖြစ်ကြောင်းတင်ပြစာ၊ မီးဘေးကာကွယ်ရေးစီမံချက်၊ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာ ချောင်ချိရေးစီမံချက်၊ ဝန်ထမ်းများ၏ကျန်းမာရေးစောင့်ရှောက်မှုစီမံချက်၊ လစာခွန်ပေးဆောင်မည် ဖြစ်ကြောင်းဝန်ခံကတိပြုချက်၊ CSR အတွက် အသားတင်အမြတ်မှ ၂% ရာထားသုံးစွဲမည့် အစီအစဉ်များကို တင်ပြထားပါသည်။

၁၃။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကို ခံစားခွင့် ပြုရန် တင်ပြထားပါသည်။

၁၄။ အဆိုပါလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ၂၀၁၄ ခုနှစ် ဩဂုတ်လ ၁၄ရက်စွဲဖြင့် ထုတ်ပြန်ထားသော အမိန့်ကြော်ငြာစာအမှတ် ၄၉/၂၀၁၄၏ ခွင့်မပြုသည့်လုပ်ငန်း၊ ဖက်စပ်စနစ် ဖြင့်သာဆောင်ရွက်ရမည့်လုပ်ငန်း၊ ကန့်သတ်ချက်တစ်ရပ်ရပ်ကို လိုက်နာဆောင်ရွက် ရမည့်လုပ်ငန်းစာရင်းတွင်မပါဝင်သဖြင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုနိုင်သောလုပ်ငန်း အမျိုးအစား ဖြစ်ပါသည်။

၁၆။ **စိစစ်တင်ပြချက်**

(က) နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ပုဂ္ဂလိကမြေတွင် ငှားရမ်းဆောင်ရွက်ခွင့်ပြုရန် ကိစ္စအား ကော်မရှင်၏ ၆/၂၀၁၅ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြထားပြီး

စီးပွားရေးရာ ကော်မတီ၏ (၉/၂၀၁၅) ကြိမ်မြောက်အစည်းအဝေးနှင့် ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးများသို့ ဆက်လက် တင်ပြထားပါသည်။

(ခ) ပုဂ္ဂလိကမြေတွင် ငှားရမ်းဆောင်ရွက်ခြင်းအတွက် ပြည်ထောင်စုအစိုးရအဖွဲ့မှ သဘောတူ ခွင့်ပြုပြီးမှသာ ကော်မရှင် ခွင့်ပြုမိန့် ထုတ်ပေးမည်ဖြစ်ပါသည်။

(ဂ) မြေဂရန်ရရှိရေးအတွက် တိုင်းဒေသကြီးအစိုးရဌာနသို့ ဆက်လက်တင်ပြလျှောက်ထားပေးမည်ဖြစ်ကြောင်း မန္တလေးမြို့သာစက်မှုဖွံ့ဖြိုးတိုးတက်ရေးအများပိုင် ကုမ္ပဏီလီမိတက်မှ ထောက်ခံတင်ပြထားပါသည်။

(ဃ) မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့၊ လျှပ်စစ်နှင့် စက်မှုလက်မှု ဝန်ကြီးဌာနမှ စက်ရုံ၊ အလုပ်ရုံများ မြေနေရာချထားရေးအတွက် သဘောတူခွင့်ပြုထားခြင်း မှန်ကန်ပါကြောင်း တင်ပြထားပါသည်။

(င) နိုင်ငံခြားမှ တင်သွင်းလာသော မော်တော်ကားများအား ကျသင့်သော အခွန်အကောက်များ ပေးဆောင်ပြီး တင်သွင်းမည်ဖြစ်ကြောင်းဖော်ပြထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

Lotus Wood Industry Limited မှ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် သစ်ပါးလွှာ၊ ကျွန်းသစ်ပါးလွှာ၊ အထပ်သားနှင့် သစ်အချောထည်များ ထုတ်လုပ်ခြင်းနှင့်ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်တင်ပြလာခြင်းကိစ္စအပေါ် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူ

ရုံးလက်ခံ/မျှောစာတွဲ

ကုမ္ပဏီဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာ စာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁။ | Lotus Wood Industry Limited | (၁) Lotus Wood Industry Limited. (Represented by) | |
| | | Mr. Ramesh Kumar Sawarthia<br>Chinese<br>PPNo-KJ 0193631 | Office No.1208, 12/F, Tower 2,30 Canton Road, TST, KOWLOON. |
| | | (၂) Mr.Sankat Mochan Shrivastava<br>India<br>PPNo-Z 1861522 | 106, Kiran Chandra Singa Road, Howrah, West Bengal, Bihar, Kolkata, India. |
| | | (၃) U San Jay Kumar<br>Myanmar<br>1/Ma Ka Na(N)018331 | No.43,Nalmyay No.(5),Min Yat Ward, Myitkyina Tsp, Kachin State, Myanmar. |
| | | (၄) U Ar Khi Lit@MICKY<br>Myanmar<br>1/Ma Ka Na(E)001397 | No.31, Nalmyay No.(1), Shan Su (North) Ward, Myitkyina Tsp, Kachin State, Myanmar. |

ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊

၁။ ဖက်စ်နံပါတ် - ၀၉-၂၀၁၅၁၂၄

၂။ ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ - No.31, Nalmyay No.(1), Shan Su (North) Ward, Myitkyina Tsp, Kachin State, Myanmar.

၃။ ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး - U Ar Khi Lit@MICKY

၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ - သစ်ပါးလွှာ၊ ကျွန်းသစ်ပါးလွှာ၊ အထပ်သားနှင့် သစ်အချောထည်များ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်း လုပ်ငန်း

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ - -

၆။ ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ - -

၇။ ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် - -

နောက်ဆက်တွဲ-က



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့
မန္တလေးမြို့

စာအမှတ်၊ ၂/၃-၅/၃၂ ဦး ၆( ၀၅၆ )
ရက် စွဲ ၊ ၂၀၁၅ ခုနှစ်၊ ဧပြီလ ၃၀ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

အကြောင်းအရာ။ **သဘောထားပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ ရန်ကုန်မြို့၏ (၂၆.၃.၂၀၁၅)ရက်စွဲပါ စာအမှတ်၊ ရက-၂ / န-၁၂၀ / ၂၀၁၅ (၂၄၀)

၁။ တရုတ်နိုင်ငံသား Mr. Ramesh Kumar Sawarthia မှ ၈၀%၊ အိန္ဒိယနိုင်ငံသား Mr. Sankat Mochan Shrivastava မှ ၁၀%၊ မြန်မာနိုင်ငံသား ဦးဆန်ဂျေးကူမား(ရ်)နှင့် ဦးအာစီလစ်(ဂျ်)(ခ)ဦးမီကီး တို့မှ ၅% စီထည့်ဝင်ပြီး နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုအဖြစ် မန္တလေးတိုင်းဒေသကြီး၊ မြင်းခြံခရိုင်၊ ငါန်းဇွန်မြို့နယ်၊ အကွက်အမှတ်(၁+၂+၃+၄)၊ မြေကွက်အမှတ် (LG-8)၊ မြေဧရိယာ(၁၃.၂၂)ဧက (၅၃၅၁၄.၅၁ စတုရန်း မီတာ)ကို ငှားရမ်းပြီး Lotus Wood Industry Limited တည်ထောင်၍ သစ်ပါးလွှာ၊ ကျွန်းသစ်ပါးလွှာ၊ အထပ်သားနှင့် သစ်အချောထည်များ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်မည့်အပေါ် တိုင်းဒေသကြီးအစိုးရအဖွဲ့၏ သဘောထား ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းလာပါသည်။

၂။ အဆိုပါ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု လုပ်ငန်းသစ်နှင့်ပတ်သက်ပြီး ဖက်စပ်နိုင်ငံခြားရင်းနှီး မြှုပ်နှံမှုဖြင့်ဆောင်ရွက်မည့် သစ်ပါးလွှာ၊ ကျွန်းသစ်ပါးလွှာ၊ အထပ်သားနှင့် သစ်အချောထည်များ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းသည် ဒေသဖွံ့ဖြိုးတိုးတက်မည့် လုပ်ငန်းတစ်ခုဖြစ်ပြီး အောက် ဖော်ပြပါ အကျိုးကျေးဇူးများ ရရှိနိုင်မည်ဖြစ်ပါသည် -

(က) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်မှုမရှိပါ ၊

(ခ) မြို့နယ်ဒေသအလုပ်အကိုင်၊ အခွင့်အလမ်းများနှင့်ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်ရေး အတွက် အထောက်အကူဖြစ်စေပါသည် ၊

(ဂ) အဆိုပါအပိုဒ်(၁)မြေနေရာအား စက်ရုံအတွက် လုပ်ငန်းဆောင်ရွက်သုံးစွဲခြင်းအပေါ် ဒေသခံများ၏လူမှုရေး၊ စီးပွားရေးတို့ကို အကျိုးအမြတ်ပေးနိုင်ခြင်း၊ သဘာဝ ပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့ကို ထိခိုက်နိုင်မှုမရှိပါ၊

(ဃ) တိုင်းဒေသကြီးအစိုးရအဖွဲ့မှ သီးခြားအကြံပြုရန်မရှိပါ ။

8/D/Mar/T.T.L/pag(113)

၃။ သို့ဖြစ်ပါ၍ တရုတ်နိုင်ငံသား Mr. Ramesh Kumar Sawarthia မှ ၈၀%၊ အိန္ဒိယနိုင်ငံသား Mr. Sankat Mochan Shrivastava မှ ၁၀%၊ မြန်မာနိုင်ငံသား ဦးဆန်ဂျေးကူမား(ရ်)နှင့် ဦးအာစီလစ်(ဂ်) (ခ) ဦးမီကီး တို့မှ ၅% စီထည့်ဝင်ပြီး နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဖက်စပ် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုအဖြစ် သစ်ပါးလွှာ၊ ကျွန်းသစ်ပါးလွှာ၊ အထပ်သားနှင့် သစ်အချောထည်များ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းအား မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ အနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ရဲမြင့်
ဝန်ကြီးချုပ်

မိတ္တူကို

Lotus Wood Industry Limited ၊
လှည့်လည်စာတွဲ ၊
ရုံးလက်ခံ ။

နောက်ဆက်တွဲ- ခ



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ် ၂/၂၂၀(ခ)(ဖ)/( ၂၈၇၈ /၂၀၁၅)
ရက်စွဲ ၂၀၁၅ခုနှစ်၊ဧပြီလ ၁၀ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ <u>သဘောထားမှတ်ချက်ပြန်ကြားခြင်း</u>

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၆-၃ -၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက-၂/န-၁၂၁/၂၀၁၅(၂၃၉)

၁။ အကြောင်းအရာပါ ကိစ္စနှင့်ပတ်သက်၍ တရုတ်နိုင်ငံသား Mr.Ramesh Kumar Sawarthia မှ(၈၀%)၊ အိန္ဒိယနိုင်ငံသား Mr.Sankat Mochan Shrivastava မှ(၁၀%) နှင့် မြန်မာနိုင်ငံသား ဦးဆန်ဂျေးကူးမား(ရ်)မှ(၅%)၊ မြန်မာနိုင်ငံသား ဦးအာစီလစ်(ဂျ်)(ခ)ဦးမိကီးမှ (၅%)အစုရှယ်ယာများ ထည့်ဝင်၍ မြန်မာနိုင်ငံတွင် Lotus Wood Industry Limited တည်ထောင်ကာ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် မန္တလေးတိုင်းဒေသကြီး၊ မြင်းခြံခရိုင်၊ ငါန်းဇွန်းမြို့နယ်၊ အကွက်အမှတ် (၁+၂+၃+၄) ၊ မြေကွက်အမှတ် (LG-8)ရှိ စုစုပေါင်း မြေအကျယ်အဝန်း (၁၃.၂၂) ဧက (၅၃၅၁၄.၅၁ စတုရန်းမီတာ) ကို ငှားရမ်းကာ သစ်ပါးလွှာ၊ ကျွန်းသစ်ပါးလွှာ၊ အထပ်သား နှင့် သစ်အချောထည်များ ထုတ်လုပ်ခြင်း နှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီး ဌာနဆိုင်ရာ သဘောထားမှတ်ချက်ကို ပြန်ကြားအပ်ပါသည်။

၂။ ပူးတွဲပေးပို့လာသည့် အဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံလိုသူ၏ အဆိုပြုချက်၊ ဘဏ္ဍာရေးနှင့် ပတ်သက်၍ တွက်ချက်ထားမှုများ ၊ ဝန်ထမ်းသက်သာချောင်ချိရေးအစီအစဉ်များ ၊ မီးဘေး အန္တရာယ် ကြိုတင်ကာကွယ်ရေးစီမံချက် ၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးအစီအစဉ်၊ ကျန်းမာရေး စောင့်ရှောက်မှု အစီအစဉ် ၊ လူမှုရေးဆိုင်ရာတာဝန်ခံမှု (CSR) အတွက် ထည့်ဝင်မည့် ရန်ပုံငွေနှင့် ရင်းနှီးမြှုပ်နှံမှုကာလမှာ နှစ်(၅၀)ဖြစ်ကြောင်း၊ တည်ဆောက်မှုကာလမှာ ခန့်မှန်း (၂) နှစ်ဖြစ်ကြောင်း၊ ပြည်ပမှ တင်သွင်းမည့် ကုန်ကြမ်းပစ္စည်းများစာရင်း၊ ပြည်တွင်းမှ ဝယ်ယူမည့် သစ်လုံးကုန်ကြမ်းပစ္စည်းများ အနေဖြင့် (၁၇,၁၆၀)တန်မှ (၂၅,၇၄၀)တန် နှစ်အလိုက် တိုးမြှင့် သုံးစွဲသွားမည်ဖြစ်ကြောင်း ဖော်ပြထားသော်လည်း ထုတ်လုပ်မှုနည်းစဉ် နှင့် ထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်းများအတွက် စီမံခန့်ခွဲမှု အစီအစဉ်များ ထည့်သွင်းဖော်ပြထားခြင်း မရှိကြောင်း စိစစ်တွေ့ရှိရပါသည်။

၃။ အဆိုပြု လုပ်ငန်းဆောင်ရွက်ရာတွင် ကုန်ကြမ်းပစ္စည်းများဖြစ်သည့် သစ်လုံးများအား သစ်ပါးလွှာ ရာမှ ထွက်ရှိလာမည့် အမှုန်အမွှားများအား စနစ်တကျ သန့်စင်ထိန်းချုပ်မှုမရှိပါက ပတ်ဝန်းကျင်နှင့် လုပ်သားများ ကျန်းမာရေးထိခိုက်စေနိုင်ခြင်း၊ လုပ်ငန်းဆောင်ရွက်ရာမှထွက်ရှိလာမည့် ဆူညံသံများကြောင့် ပတ်ဝန်းကျင်ထိခိုက်မှုဖြစ်စေနိုင်ခြင်း၊ သုံးစွဲမည့်ကော်များနှင့်

ကုန်ကြမ်းပစ္စည်းများမှ ထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်းများအား စနစ်တကျ စွန့်ပစ်မှုမရှိပါက ပတ်ဝန်းကျင်ညစ်ညမ်းမှုဖြစ်စေနိုင်ခြင်း၊ လုပ်ငန်းခွင်လုံခြုံရေးကိရိယာများ စနစ်တကျတပ်ဆင်အသုံးမပြုပါက ထိခိုက်မှုအန္တရာယ်များ ဖြစ်စေနိုင်ကြောင်းစိစစ်တွေ့ရှိရပါသည်။

၄။ အဆိုပါ ကုမ္ပဏီမှ သစ်ပါးလွှာ၊ကျွန်းသစ်ပါးလွှာ၊ အထပ်သားနှင့် သစ်အချောထည်များ ထုတ်လုပ်ခြင်းနှင့်ရောင်းချခြင်းလုပ်ငန်းအတွက် ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့်ဆောင်ရွက်မည့်ကိစ္စအတွက် စက်ရုံတည်ဆောက်ရာတွင် စက်ပစ္စည်းစာရင်းတင်ပြထားခြင်းမရှိပါ၍စိစစ်နိုင်ခြင်းမရှိပါ၊သစ်အချောထည်များ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းအား ဥပဒေ ၊ လုပ်ထုံးများနှင့်အညီ စိစစ်ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပြီး ကိုက်ညီမည် ဆိုပါက ကန့်ကွက်ရန်မရှိပါကြောင်းနှင့် ရေရှည်တွင် ကုန်ကြမ်းရရှိရေး သေချာခိုင်မာစေရန် ကုမ္ပဏီပိုင်ပုဂ္ဂလိကသစ်တောစိုက်ခင်းများတည်ထောင်သင့်ပါကြောင်း ဖော်ပြအပ်ပါသည်။

၅။ သို့ဖြစ်ပါ၍ တရုတ်နိုင်ငံသား Mr.Ramesh Kumar Sawarthia မှ(၈၀%)၊ အိန္ဒိယနိုင်ငံသား Mr.Sankat Mochan Shrivastava မှ(၁၀%) နှင့် မြန်မာနိုင်ငံသား ဦးဆန်ရှေးကူးမား(ရ်)မှ(၅%) ၊ မြန်မာနိုင်ငံသား ဦးအာစီလစ်(ဂျ်)(ခ)ဦးမီကီးမှ (၅%) အစုရှယ်ယာများ ထည့်ဝင်၍ မြန်မာနိုင်ငံတွင် Lotus Wood Industry Limited တည်ထောင်ကာ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် မန္တလေးတိုင်းဒေသကြီး၊ မြင်းခြံခရိုင်၊ ငါန်းဇွန်းမြို့နယ်၊ အကွက်အမှတ် (၁+၂+၃+၄)၊ မြေကွက်အမှတ် (LG-8)ရှိ စုစုပေါင်း မြေအကျယ်အဝန်း (၁၃.၂၂) ဧက (၅၃၅၁၄.၅၁ စတုရန်းမီတာ) ကိုငှားရမ်းကာသစ်ပါးလွှာ၊ ကျွန်းသစ်ပါးလွှာ၊ အထပ်သားနှင့် သစ်အချောထည်များထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း ဆောင်ရွက်ရန် လိုအပ်မည် ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) သစ်ပါးလွှာ၊ ကျွန်းသစ်ပါးလွှာ၊ အထပ်သားနှင့် သစ်အချောထည်များ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်းစီမံကိန်း ရေးဆွဲချမှတ်ခြင်း၊ ထုတ်လုပ်ခြင်း အဆင့်ဆင့်တို့အတွက် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် လုပ်ငန်းစနစ်များ၊ စက်ပစ္စည်းများကို အသုံးပြုခြင်းနှင့် အဆိုပြုလွှာတွင် လူမှုရေးဆိုင်ရာ တာဝန်ခံမှု (CSR) အတွက် အသားတင် အမြတ်ငွေမှ (၂%)ထည့်ဝင်ရန် အပါအဝင်ကတိကဝတ်များ၊ လုပ်ငန်းစီမံချက်များ အတိုင်းအကောင်အထည်ဖော်ဆောင်ရွက်သွားရန်၊

(ခ) သစ်ပါးလွှာရာမှ ထွက်ရှိလာမည့် အမှုန်အမွှားများအတွက် အမှုန်အမွှား ထိန်းချုပ်စနစ် တည့်သွင်းဆောင်ရွက်ရန်နှင့် လုပ်သားများလုပ်ငန်းခွင် လုံခြုံစိတ်ချမှုရှိစေရေးအတွက် လုပ်ငန်းခွင်လုံခြုံရေးပစ္စည်းများ တပ်ဆင်အသုံးပြုရန်၊

(ဂ) လုပ်ငန်းဆောင်ရွက်ရာမှ ထွက်ရှိလာမည့် ဆူညံသံအတွက် ဆူညံသံထိန်းချုပ်နည်းစနစ်များ၊ အစီအမံများရေးဆွဲဆောင်ရွက်ရန်၊

(ဃ) လုပ်ငန်းခွင်နှင့် ဝန်ထမ်းအိမ်ယာများမှ ထွက်ရှိလာမည့် စွန့်ပစ်ရေ နှင့် စွန့်ပစ်ပစ္စည်းများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရေးအတွက် ကောင်းမွန်သော စွန့်ပစ်အရည် သန့်စင်စနစ်ထားရှိရန် နှင့် စွန့်ပစ်အရည် / ပစ္စည်းစီမံခန့်ခွဲမှု အစီအမံများ၊ စီမံချက်များ ရေးဆွဲဆောင်ရွက်ရန်၊

(င) အဆိုပြုစီမံကိန်းလုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုနှင့် လူမှုရေးဆိုင်ရာ ထိခိုက်မှု အနည်းဆုံး ဖြစ်စေရေးအတွက် ကနဦး ပတ်ဝန်းကျင်ဆန်းစစ်ခြင်းအစီရင်ခံစာ၊ (Initial Environmental Examination- IEE) ဆောင်ရွက်ရန်၊

(စ) အထက်ပါ ဆန်းစစ်တွေ့ရှိချက်များအပေါ် အခြေခံ၍ လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်များ စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြည့်လေ့လာမည့် အစီအစဉ် ၊ ပတ်ဝန်းကျင် ထိခိုက်မှုလျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan - EMP) ရေးဆွဲပြုစုတင်ပြရန်နှင့်စီမံချက်ပါအတိုင်း အကောင် အထည်ဖော်ဆောင်ရွက်ရန်၊

(ဆ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ ၊ နည်းဥပဒေ ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များ၊ စံချိန်စံညွှန်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော် ဆောင်ရွက်သွားရန်၊

(ဇ) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့ နှင့် ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထား များရယူဆောင်ရွက်ရန်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( မျိုးညွှန့် ၊ ရုံး အ ဖွဲ့ မှူး)

မိတ္တူ ✓-ညွှန်ကြားရေးမှူးချုပ် ၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
-ညွှန်ကြားရေးမှူးချုပ် ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
-ညွှန်ကြားရေးမှူးချုပ် ၊ သစ်တောဦးစီးဌာန



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## စက်မှုဝန်ကြီးဌာန

စာအမှတ်၊၂၁-စမ (၂)၂၀၁၄-၂၀၁၅(၀၈၀)
ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ ဧပြီလ ၅ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

အကြောင်းအရာ။ သဘောထားမှတ်ချက်ပြန်ကြားခြင်း

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၆.၃.၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက-၂/ န-၁၂၁/ ၂၀၁၅ (၂၄၀)

၁။ Lotus Wood Industry Limited. သည် ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မန္တလေးတိုင်းဒေသကြီး၊ မြင်းခြံခရိုင်၊ ငါန်းဇွန်မြို့နယ်၊ အကွက်အမှတ်(၁+၂+၃+၄)၊ မြေကွက်အမှတ်(LG-8)တွင် သစ်ပါးလွှာ၊ ကျွန်းသစ်ပါးလွှာ၊ အထပ်သားနှင့် သစ်အချောထည်များ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံပြီး သစ်ပါးလွှာ၊ ကျွန်းသစ်ပါးလွှာ၊ အထပ်သားနှင့်သစ်အချောထည်များ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုများကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးအတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

၃။ သို့ပါ၍ Lotus Wood Industry Limited. မှ သစ်ပါးလွှာ၊ ကျွန်းသစ်ပါးလွှာ၊ အထပ်သားနှင့်သစ်အချောထည်များ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် အထက်ပါ

လိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်ပြီး နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့် တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့်ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၃.၄.၁၅

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
(လှမိုး၊ ဒုတိယညွှန်ကြားရေးမှူးချုပ်)

မိတ္တူကို
စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန